ကန့်သတ်

**ကုမ္ပဏီအမည်** - **Sar Taw Kal Nissin Company Limited**
**လုပ်ငန်း** - **အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၀-၁၀-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန<br>(ခ) ကျန်းမာရေးနှင့် အားကစား ဝန်ကြီးဌာန<br>(ဂ) သယံဇာတနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန<br>(ဃ) ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့ | <br>၅-၁၂-၂၀၁၆<br>၅-၁၂-၂၀၁၆<br><br>၅-၁၂-၂၀၁၆<br><br>၅-၁၂-၂၀၁၆ | <br>၂၃-၁၂-၂၀၁၆<br>၆-၁-၂၀၁၇<br><br>၂၆-၁၂-၂၀၁၆<br><br>၃၀-၁၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၈/၂၀၁၆) သို့ တင်ပြခြင်း | ၁၇-၁၀-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၉-၁၀-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၂၀/၂၀၁၆) သို့ တင်ပြခြင်း<br>(ခ) ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ်(၁/၂၀၁၇) ကြိမ်မြောက်သို့ တင်ပြပြီး ဖြစ်ပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | ၂၇-၁-၂၀၁၇ | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၁၁၄ | | |

ကန့်သတ်

| | |
|---|---|
| ကုမ္ပဏီအမည် | - Sar Taw Kal Nissin Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ်(၁၃၆)၊ မြေတိုင်းရပ်ကွက်အမှတ်-ဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ အတွင်းရှိ မြေ(၁.၉၉၁) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၇.၀၈၃ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၈ နှစ် |
| IRR | - ၂၁% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၅၀ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၆၁.၄၀ | - |
| ၄ | ဝင်ငွေခွန် | ၁၄၁၆.၀၀ | ၅၆၁၆.၀၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၃၈၂.၃၃ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၁၅၃.၆၀ |

| | | | |
|---|---|---|---|
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၆၇ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၁၅၇၉.၅၆ | ၆၁၅၂.၄၃ |
| ၁၁ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sar Taw Kal Nissin Company Limited တည်ထောင်၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Sar Taw Kal Nissin Company Limited ဒေါ်အေးစန္ဒာလွင် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Lluvia Limited (၈၅.၀၁%)၊ (မြန်မာနိုင်ငံ)<br>- Nissin Foods Holding Co.,Ltd.(၁၄.၉၉%)၊ (ဂျပန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၁၃၆)၊ မြေတိုင်းရပ်ကွက်အမှတ်-ဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး အတွင်းရှိမြေ (၁.၉၉၁) ဧက |
| ၃။ | မြေပိုင်ရှင် | - Diamond Star Co.,Ltd. |
| | မြေအကျယ်အဝန်း | - မြေဧရိယာ (၁.၉၉၁)ဧက (၈၀၅၇.၂၉ စတုရန်းမီတာ) |
| | အဆောက်အဦးအကျယ်အဝန်း | - (၂၀၀x ၄၀၀) ပေ |
| ၄။ | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ US$ ၁၉၁,၆၀၂.၃၆ (တစ်နှစ်စတုရန်းမီတာ US$ ၂၃.၇၈) |
| | မြေငှားရမ်းကာလ | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၈ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - US$ ၇.၀၈ သန်း |

US $ (သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၀၆ | ၁.၈၃ | ၂.၈၉ |
| စက်ပစ္စည်းများ(ပြည်ပဝယ်) | - | ၂.၆၉ | ၂.၆၉ |
| စက်ပစ္စည်းများ(ပြည်တွင်းဝယ်) | | ၀.၄၂ | ၀.၄၂ |
| ကုန်ကြမ်းပစ္စည်း | - | ၀.၁၇ | ၀.၁၇ |
| အဆောက်အဦနှင့်မြေငှားရမ်းခ | - | ၀.၁၉ | ၀.၁၉ |
| ပြုပြင်စရိတ် | - | ၀.၀၆ | ၀.၀၆ |
| ရုံးသုံးပရိဘောဂ | - | ၀.၆၆ | ၀.၆၆ |
| **စုစုပေါင်း** | ၁.၀၆ | ၆.၀၂ | ၇.၀၈ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၇၁ ဦး |
| | ပြည်တွင်း | - ၆၇ ဦး (အနိမ့်ဆုံးလစာမှာ US$ ၁၄၉ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၂၆၇၅ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၄ ဦး (အနိမ့်ဆုံးလစာမှာ US$ ၁၂၁၉ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၇,၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၉။ | နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမမြောက်နှစ်) | **ပစ္စည်းအမျိုးအစား** / **အရေအတွက်** (Package) / **ရောင်းဈေးနှုန်း** (ကျပ်/Package) |
| | | Instant Noodle (Prawn Flavor) / ၁၃၄,၀၀၀ / ၁၄၀.၇၃ |
| | | Instant Noodle (Chicken Flavor) / ၆၆,၀၀၀ / ၁၂၂.၅၈ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US$ ၂၁.၉၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမမြောက်နှစ်) | - US$ ၂၀.၂၆ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမမြောက်နှစ်) | - US$ ၁.၆၅ သန်း |
| | CSR ၂ % | - US$ ၀.၀၃၃ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၀.၆၀ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၁% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) | - ၃,၀၆၆,၀၀၀ kwh |

| | | |
|---|---|---|
| ၁၂။ | အခြားတင်ပြချက် | - မြေပိုင်ရှင် Diamond Star Co.,Ltd နှင့် Sar Taw Kal Nissin Company Limited တို့ ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ Joint-Venture Agreement တို့ကိုလည်း တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Lluvia Limited အမည်ဖြင့် မြန်မာနိုင်ငံသားများဘဏ်တွင် (၁၄-၉-၂၀၁၆) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃,၄၀၉,၅၂၈.၈၂ ရှိကြောင်း နှင့် Nissin Foods Holdings Co.,Ltd. သည် Mizuho Bank Ltd တွင် (၂၉-၉-၂၀၁၆) ရက်စွဲဖြင့် ဂျပန်ယန်း ၇,၀၃၁,၈၂၁,၇၃၁ (အမေရိကန်ဒေါ်လာ ၆၁,၈၄၆,၂၀၆.၂၁) ရှိကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။<br>- အဆိုပြုချက်နှင့်အတူ ရင်းနှီးမြှုပ်နှံသူများ၏ Passport (မိတ္တူ) များနှင့် နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ) တို့အား တင်ပြထားပါသည်။<br>- Sar Taw Kal Nissin Company Limited ၏ MOA, AOA (မူကြမ်း) များကို တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | - နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။<br>- ကုမ္ပဏီမှ "Wah Lah" အမည်ရှိ ကုန်အမှတ်တံဆိပ်အား အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ န-၁၅၇ /၂၀၁၇ ( ၂၄၇ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Sar Taw Kal Nissin Company Limited တည်ထောင်၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း**

၁။ မြန်မာနိုင်ငံ Lluvia Limited မှ (၈၅.၀၁%) နှင့် ဂျပန်နိုင်ငံမှ Nissin Foods Holding Co.,Ltd မှ (၁၄.၉၉%) တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Sar Taw Kal Nissin Company Limited တည်ထောင်ပြီး မြေကွက်အမှတ် (၁၃၆)၊ မြေတိုင်းရပ်ကွက်အမှတ်-ဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ အတွင်းရှိ မြေ(၁.၉၉၁)ဧကကို ငှားရမ်း၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Diamond Star Company နှင့် Sar Taw Kal Nissin Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံမှ Lluvia Limited နှင့် ဂျပန်နိုင်ငံ မှ Nissin Foods Holding Co.,Ltd တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) နှင့် Shareholders Agreement ၊ မြေအထောက်အထားများ၊ အဆောက်အဦ ဓာတ်ပုံ စသည်တို့ကို တင်ပြထားပါသည်။

၃။ မြေနှင့် အဆောက်အဦ ငှားရမ်းခြင်းသက်တမ်းမှာ ကနဦးနှစ်(၅၀)ဖြစ်ပြီး သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ငှားရမ်းမည်ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ မြေဧရိယာ တစ်စရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂၃.၇၈ နှုန်းဖြင့် တွက်ချက်ပြီး စုစုပေါင်းစတုရန်းမီတာ

၈၀၅၇.၂၉ (၁.၉၉၁) ကေ အတွက် မြေငှားရမ်းခ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၁၉၁,၆၀၂.၃၆ နှုန်း ပေးချေရမည် ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၈ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၇.၀၈ သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

US $ (သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၁.၀၆ | ၁.၈၃ | ၂.၈၉ |
| စက်ပစ္စည်းများ(ပြည်ပဝယ်) | - | ၂.၆၉ | ၂.၆၉ |
| စက်ပစ္စည်းများ(ပြည်တွင်းဝယ်) | | ၀.၄၂ | ၀.၄၂ |
| ကုန်ကြမ်းပစ္စည်း | - | ၀.၁၇ | ၀.၁၇ |
| အဆောက်အဦနှင့် မြေငှားရမ်းခ | - | ၀.၁၉ | ၀.၁၉ |
| ပြုပြင်စရိတ် | - | ၀.၀၆ | ၀.၀၆ |
| ရုံးသုံးပရိဘောဂ | - | ၀.၆၆ | ၀.၆၆ |
| **စုစုပေါင်း** | **၁.၀၆** | **၆.၀၂** | **၇.၀၈** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၆၇)ဦး နှင့် ပြည်ပ (၄) ဦး စုစုပေါင်း (၇၁)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ အမေရိကန် ဒေါ်လာ ၁၄၉ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ အမေရိကန်ဒေါ်လာ ၂၆၇၅ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၂၁၉ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ အမေရိကန် ဒေါ်လာ ၇,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းပစ္စည်းများကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | အရေအတွက် (Package) | ရောင်းဈေးနှုန်း (ကျပ်/Package) |
|---|---|---|
| Instant Noodle (Prawn Flavor) | ၁၃၄,၀၀၀ | ၁၄၀.၇၃ |
| Instant Noodle (Chicken Flavor) | ၆၆,၀၀၀ | ၁၁၂.၅၈ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂၁.၉၁ |
| (ခ) | အသုံးစရိတ် | - | ၂၀.၂၆ |
| (ဂ) | အသားတင်အမြတ် | - | ၁.၆၅ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၆၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ ၈ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း(IRR) မှာ ၂၁% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ၊

ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporation Social Responsibility - CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင် ပူးတွဲ တင်ပြခဲ့သည့် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (မူကြမ်း) Environmental Impact Assessment – EIA (Draft) ကို ပြည့်စုံစွာဖြည့်စွက်ရေးသားပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ် စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သော **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသော ညွှန်ကြားချက်များ နှင့်အညီ အစီရင်ခံရေးသားတင်ပြရန်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု)

လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ- ခ)**

(ဂ) **ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ငှင်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ (၁%) သုံးစွဲရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်ရယူရန်၊ စားသောက်ကုန်ထုတ်လုပ်မှုလုပ်ငန်းဖြစ်ပါသဖြင့် Good Manufacturing Practice နှင့်အညီ ထုတ်လုပ်ရန်၊ ခေါက်ဆွဲခြောက် ထုတ်လုပ်မည့် စက်ပစ္စည်းများစာရင်းမှာ သင့်လျော်မှုရှိသော်လည်း Food Grade စက်ပစ္စည်းများ ဖြစ်ရန်၊ QC Equipment များနှင့် ပတ်သက်၍ Incubator၊ Clean Bench၊ Digest and distilling apparatus for kjedahl determination အစရှိသည့် Equipment များကိုလည်း ထည့်သွင်းအသုံးပြုရန်၊ ကုန်ကြမ်းပစ္စည်းများတွင် ကနဦးကုန်ကြမ်းစာရင်း၌သာ ဂျုံမှုန့်ထည့်သွင်းထားပြီး နှစ်အလိုက်ကုန်ကြမ်းသုံးစွဲမှုတွင် ဂျုံမှုန့်ဖော်ပြထားခြင်း မရှိပါသဖြင့် ထည့်သွင်းရန်လိုအပ်ကြောင်းနှင့် အခြားကုန်ကြမ်းများမှာလည်း ထည့်သွင်းသုံးစွဲမှုနှုန်းများပြားနေ၍ ပြန်လည်စိစစ်ရန်၊ ပြည်တွင်းမှ ဝယ်ယူရရှိသော စားအုန်းဆီ၊ ဂျုံမှုန့်၊ ပီလောပီနံကော်မှုန့်၊ သကြားစသည့် ကုန်ကြမ်းများကို ပြည်တွင်း၌သာ ဝယ်ယူသုံးစွဲရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါ ကြောင်း နှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။)** **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ မြန်မာနိုင်ငံသားများဘဏ်တွင် Lluvia Limited အမည်ဖြင့် ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃,၄၀၉,၅၂၈.၈၂ ရှိကြောင်း၊ ဂျပန်နိုင်ငံ Mizuho Bank Ltd တွင် Nissin Foods Holding Co.,Ltd အမည်ဖြင့် ၂၀၁၆ခုနှစ် စက်တင်ဘာလ ၂၉ ရက်စွဲဖြင့် ဂျပန်ယန်း ၇၀၃၁,၈၂၁,၇၃၁ (အမေရိကန်ဒေါ်လာ ၆၁,၈၄၆,၂၀၆.၂၁) ရှိကြောင်း နှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသားမှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Sar Taw Kal Nissin Company Limited. မှ တည်နေရာပြမြေပုံ၊ လုပ်ငန်း သဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၇ ရက်နေ့တွင် ကျင်းပသော ၃၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ “Wah Lah” အမည်ရှိ ကုန်အမှတ်တံဆိပ်အား အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ် ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Sar Taw Kal Nissin Company Limited တည်ထောင်၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Sar Taw Kal Nissin Company Limited | Lluvia Limited<br>Represented by: | |
| | | (က) Daw Aye Sandar Lwin<br>Director<br>Myanmar<br>12/Ou Ka Ma (Naing) 013755 | No.383, Thunadar 9th Street, Quarter, North Okkalapa Township, Yangon Region. |
| | | Nissin Foods Holding Co.,Ltd | |
| | | (ခ) Mr. Lim Chong Chong<br>Director<br>Singapore<br>PP No.E 3213938F | No. 107A, Room (604), Kyike Wine Pagoda, Mayangone Township, Yangon Region. |
| | | (ဂ) Mr. Hiroyuki J Arai<br>Director<br>Japan<br>PP No.TK 2903583 | Ivory Court 21, Pun Hlaing Golf Estate, Hlaing Tha Yar Township, Yangon Region. |
| | | (ဃ) Mr. Eigo Ogiwara<br>Director<br>Japan<br>PP No.TZ 0538641 | # 13-04, The Metz 83 Devonshire Road, Singapore 239864 |
| | | (င) Mr. Stanley Kyaw Khaing<br>Director<br>Canadian<br>PP No.BA 613016 | No.(9), Yaw Min Gyi Street, Dagon Township, Yangon Region. |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉- ၂၀၀၆၄၉၄ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်-၃၈၃, သုနန္ဒ(၉)လမ်း၊ (ဆ)ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်အေးစန္ဒာလွင် ဒါရိုက်တာ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - |

နောက်ဆက်တွဲ(က)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ ၃၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅. ၁၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၇/၂၀၁၆(၈၈၀)

၁။ မြန်မာနိုင်ငံ Lluvia Limited မှ (၈၅. ၀၁%)နှင့် ဂျပန်နိုင်ငံမှ Nissin Foods Holding Co., Ltd. မှ (၁၄. ၉၉%)တို့ အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Sar Taw Kal Nissin Company Limited တည်ထောင်ပြီး မြေကွက်အမှတ်(၁၃၆)၊ မြေတိုင်းရပ်ကွက်အမှတ်-ဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ မြေ(၁. ၉၉၁)ဧကကို ငှားရမ်း၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၂၂. ၁၂. ၂၀၁၆)ရက်နေ့ တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၆/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၀)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Sar Taw Kal Nissin Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/30...(8)



ITC, ३८१ / 26|12

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီး
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁(၂၉၂/၁၆)
ရက် စွဲ ၊၂၀၁၆ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sar Taw Kal Nissin Company Limited မှ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၁၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂ / န-၁၅၇/ ၂၀၁၆(၈၇၈)

၁။ မြန်မာနိုင်ငံ Lluvia Limited မှ ၈၅.၀၁%နှင့် ဂျပန်နိုင်ငံမှ Nissin Foods Holding Co.,Ltd. မှ ၁၄.၉၉%တို့ အစုရှယ်ယာများ ထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် Sar Taw Kal Nissin Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၁၃၆၊ မြေတိုင်းရပ်ကွက်အမှတ်-ဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၁.၉၉၁ ဧက(၈၀၅၇.၁၄၁စတုရန်းမီတာ)ကို ငှားရမ်း၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပါအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့် (၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၈)လဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလအတွင်း တစ်ပါတ်လျင်(၆)ရက်ဆောင်ရွက်ပြီး တစ်ရက်တွင်(၈)နာရီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ခ) အဆိုပြု ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေး အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှု အစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလွှာတွင် ထုတ်လုပ်မှုအနေဖြင့် လုပ်ငန်းစတင်လည်ပတ်သည့် နှစ်မှစ၍ ပထမနှစ်အတွင်း တစ်ရက်လျှင် (၅.၉)တန် မှ နှစ်(၃၀)တွင် တစ်ရက်လျှင် (၆၇.၈၇) တန် အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(ဃ) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အနေဖြင့် လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများအား အလုံအလောက်ထားရှိခြင်း၊ ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်ရေးအတွက် ပြုပြင်ခြင်း၊ စွန့်ပစ်ပစ္စည်းများကို အမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စွန့်ပစ်ခြင်းများကို WHO Standrad guidelines အတိုင်းလိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) ရေဆိုး စွန့်ပစ်မှုအစီအစဉ်နှင့် စပ်လျဉ်း၍ လုပ်ငန်းမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့်စွန့်ပစ်အဆီများအား မြစ်ချောင်း၊ ကန်အတွင်းသို့ တိုက်ရိုက်စွန့်ပစ်မှုမရှိဘဲ Waste Water Treatment Plant တပ်ဆင်ကာ အများပြည်သူအား အန္တရာယ်မပြုနိုင်သည့် အဆင့်သို့ရောက်အောင် သန့်စင်ပြီးမှသာ စွန့်ပစ်သွား မည်ဖြစ်ကြောင်း နှင့် Green Myanmar Environmental Services Co.,Ltd. ဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(မူကြမ်း) Environmental Impact Assessment -EIA (Draft) ပူးတွဲဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Sar Taw Kal Nissin Company Limited မှ တည်ဆောက်ရေး လုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား၊ အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် မြေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ခ) ဆောက်လုပ်ရေးလုပ်ငန်းခွင်ရှိ အလုပ်သမားများ၏ စွန့်ပစ်အမှိုက်များ၊ လုပ်ငန်းခွင် စွန့်ပစ်ရေဆိုးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းများဆောင်ရွက်ရာတွင် လုပ်ငန်းခွင်အတွင်း ဖုန်မှုန့်နှင့် အခိုးအငွေ့များထွက်ရှိခြင်း၊ လုပ်ငန်းအဆင့်တိုင်း စက်များအသုံးပြုဆောင်ရွက်ခြင်းနှင့်စက်ပစ္စည်းများ ချို့ယွင်းခြင်းကြောင့် အခန်းအတွင်း/အပြင် လေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းခွင်ဝန်ထမ်းများ၏ ကျန်းမာရေးထိခိုက်မှုများဖြစ်ပေါ်နိုင်ခြင်း၊ စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sar Taw Kal Nissin Company Limited မှ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင် ပူးတွဲတင်ပြခဲ့သည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(မူကြမ်း) Environmental Impact Assessment -EIA (Draft)ကို ပြည့်စုံစွာဖြည့်စွက်ရေးသားပြီး **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊

(ဂ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်

ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းတွင် ဖော်ပြပါရှိသော ညွှန်ကြားချက်များနှင့်အညီ အစီရင်ခံရေးသား တင်ပြရန်၊

(ဃ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန
ဝန်ကြီးရုံး



စာအမှတ်၊ ၅မခ(က)၂၀၁၇/ ၄၃၁
ရက်စွဲ၊၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ( ၆ )ရက်

သို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅-၁၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၇/၂၀၁၆(၈၈၁)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံတွင် Lluvia Limited (၈၅.၀၁%)နှင့် ဂျပန်နိုင်ငံမှ Nissin Foods Holding Co.,Ltd မှ (၁၄.၉၉%)တို့ အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Sar Taw Kal Nissin Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-ဖုန်(၁)၊ မြေကွက်အမှတ်(၁၃၆)ရှိ မြေဧက(၁.၉၉၁)ဧကအား ငှားရမ်း၍ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ရန်အတွက် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ပဂါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

D; NCO. Ministry 2017



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၅၂၀)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၃ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅.၁၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂ / န-၁၅၇ / ၂၀၁၆ (၈၈၂)

၁။ Sar Taw Kal Nissin Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(ဇုန်-၁)၊ မြေကွက်အမှတ် (၁၃၆)တွင် အသင့်စားခေါက်ဆွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး Sar Taw Kal Nissin Company Limited အသင့်စားခေါက်ဆွဲထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုတို့ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်လိုအပ်ပါသည်။

(စ) စားသောက်ကုန်ထုတ်လုပ်မှုလုပ်ငန်းဖြစ်ပါသဖြင့် Good Manufacturing Practice နှင့်အညီ ထုတ်လုပ်ရန်လိုအပ်ပါသည်။

(ဆ) ခေါက်ဆွဲခြောက် ထုတ်လုပ်မည့်စက်ပစ္စည်းများစာရင်းမှာ သင့်လျော်မှုရှိသော်လည်း Food Grade စက်ပစ္စည်းများဖြစ်ရန်လိုအပ်ပါသည်။

(ဇ) QC Equipment များနှင့်ပတ်သက်၍ Incubator ၊ Clean Bench ၊ Digest and distilling apparatus for kjedahl determination အစရှိသည့် Equipment များကိုလည်း ထည့်သွင်းအသုံးပြုရန်လိုအပ်ပါသည်။

(ဈ) ကုန်ကြမ်းပစ္စည်းများတွင် ကနဦးကုန်ကြမ်းစာရင်း၌သာဂျုံမှုန့်ထည့်သွင်းထားပြီး နှစ်အလိုက်ကုန်ကြမ်းသုံးစွဲမှုတွင် ဂျုံမှုန့်ဖော်ပြထားခြင်းမရှိပါသဖြင့် ထည့်သွင်းရန်လိုအပ်ကြောင်းနှင့် အခြားကုန်ကြမ်းများမှာလည်း ထည့်သွင်းသုံးစွဲမှုနှုန်းများပြားနေကြောင်း စိစစ်တွေ့ရှိရပါသည်။

(ည) ပြည်တွင်းမှ ဝယ်ယူရရှိနိုင်သော စားအုန်းဆီ၊ ဂျုံမှုန့်၊ ပီလောပီနံကော်မှုန့်၊ သကြားစသည့်ကုန်ကြမ်းများကို ပြည်တွင်း၌သာ ဝယ်ယူသုံးစွဲသင့်ပါသည်။

(ဋ) Flavor Powder ၊ Flavor Enhancers များနှင့်ပတ်သက်၍ FDA ၏ သဘောထားမှတ်ချက်ရယူရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Sar Taw Kal Nissin Company Limited မှ အသင့်စားခေါက်ဆွဲ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက စက်မှုဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

